ကုမ္ပဏီအမည် - Saung Hnin Cherry Company Limited

လုပ်ငန်း - သစ်အခြေခံပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၀-၄-၂၀၁၅ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၄-၅-၂၀၁၅ | ၁-၆-၂၀၁၅ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၄-၅-၂၀၁၅ | ၁၉-၅-၂၀၁၅ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၄-၅-၂၀၁၅ | ၂၆-၅-၂၀၁၅ | |
| ၃ | PAT အစည်းအဝေးသို့တင်ပြခြင်း (၁၅/၂၀၁၅) | ၂၇-၄-၂၀၁၅ | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၂၉-၄-၂၀၁၅ | | |
| ၅ | PATဆုံးဖြတ်ချက်အရ လိုအပ်ချက်များ အကြောင်းကြားခြင်း | ၆-၅-၂၀၁၅ | | |
| ၇ | ကုမ္ပဏီမှ အဆိုပြုချက် ပြန်လည်ပြင်ဆင် တင်ပြလာသည့်နေ့ | ၈-၆-၂၀၁၅ | | |
| ၈ | ကုမ္ပဏီမှ အဆိုပြုချက် (၁၀)စုံ ပေးပို့ခြင်း | ၉-၆-၂၀၁၅ | | |
| ၉ | ကော်မရှင်အစည်းအဝေးသို့တင်ပြရန် ပြုစုခြင်း | ၁၀-၆-၂၀၁၅ | | |
| | စုစုပေါင်းကြာမြင့်ချိန် | ၆၂ရက် | | |

| | |
|---|---|
| ကုမ္ပဏီအမည် | Saung Hnin Cherry Company Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | သစ်အခြေခံပစ္စည်းများထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | အမှတ် - ၂၄၇/ ဒီ၊ ဆိပ်ကမ်းသာလမ်းနှင့် လှေသင်းအတွင်းဝန်ဦးချိန်လမ်းထောင့်၊ အပိုင်း(၂)၊ စက်မှုမြို့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၃,၃၄၂.၀၀ သန်း |
| ရောင်းချမည့်စနစ် | ၁၀% ပြည်တွင်းရောင်း၊ ၉၀% ပြည်ပတင်ပို့ |
| လုပ်ငန်းသက်တမ်း | ကနဦး ၃၀ နှစ် |
| အရင်းကြေကာလ | ၅ နှစ် နှင့် ၃ လ |
| IRR | ၂၄.၀၀% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit(ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၂.၀၆ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၉.၀၀ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ၁၈၆.၀၆ |
| ၅ | ဝင်ငွေခွန် | ၈၂၀.၄၁ | ၅၃၃၀.၀၃ |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ၁၆၂၄.၃၅ |
| ၇ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်း နှစ်ဆယ် ထက်ကျော်ပါ အခွန် ပေးရမည့် ဝန်ထမ်း( ၇ )ဦး |
| ၈ | CSR ( ၂ %) | | ၁၁၉.၄၄ |
| ၉ | မြေငှားရမ်းခရငွေ | | ၈၄.၀၀ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၇၈ ဦး<br>ပြည်တွင်းလုပ်သား ၇၈ ဦး<br>အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင် အခွင့် အလမ်းနှင့် ဒေသ စီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုကိုအထောက်အကူ ပြုစေပါသည်။ |
| | | ၈၃၁.၅၇ | ၇၃၄၅.၀၄ |
| | Cost & Benefit | ၁:၈ | |

အကြောင်းအရာ။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်းနှင်းချယ်ရီ ကုမ္ပဏီလီမိတက် (Saung Hnin Cherry Company Limited) မှ သစ်အခြေခံပစ္စည်းများထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ဆောင်းနှင်းချယ်ရီ ကုမ္ပဏီလီမိတက် (Saung Hnin Cherry Company Limited) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးအောင်နိုင်ဦး (အဘ-ဦးအောင်သန်း) |
| ၃။ | အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - သစ်အခြေခံပစ္စည်းများထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၅။ | လုပ်ငန်းတည်နေရာ | - အမှတ် - ၂၄၇/ ဒီ၊ ဆိပ်ကမ်းသာလမ်းနှင့် လှေသင်းအတွင်းဝန်ဦးချိန်လမ်းထောင့်၊ အပိုင်း ၂၊ စက်မှုမြို့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| | မြေအကျယ်အဝန်း | - ၁.၄၃၄ ဧက (၅၈၀၃.၁၉၂ စတုရန်းမီတာ) |
| | လုပ်ငန်းသက်တမ်း | - ကနဦး နှစ် ၃၀ |
| | တည်ဆောက်ရေးကာလ | - ၂ နှစ် ၆လ |
| ၆။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၃,၃၄၂.၀၀ သန်း |
| | - ငွေပမာဏ | ကျပ် ၂၀၀.၀၀ သန်း |
| | - စက်ပစ္စည်းကိရိယာများ | ကျပ် ၁၂၆.၀၀ သန်း (US$ ၀.၀၉ သန်းအပါအဝင်) |
| | - အဆောက်အအုံ | ကျပ် ၃,၀၀၀.၀၀ သန်း |
| | - ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ | ကျပ် ၁၆.၀၀ သန်း |

| ၇။ နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်မြောက် (၁၀% ပြည်တွင်းရောင်း) | စဉ် | ပစ္စည်း အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (တန်) | ရောင်းဈေးနှုန်း (ကျပ်/ တန်) |
|---|---|---|---|---|
| | | သစ်မာ | | |
| | ၁။ | Conversion | ၄၁၅ | ၁,၁၂၃,၁၂၈ |
| | ၂။ | Scantling | ၄၁၅ | ၇၆၅,၇၆၉ |
| | | ကျွန်း | | |
| | ၃။ | Conversion | ၂၃၀ | ၁,၄၀၃,၉၁၀ |
| | ၄။ | T & G (Flooring) | ၁၉၀ | ၁,၀၂၁,၀၂၅ |

| | | |
|---|---|---|
| | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်မြောက် (၉၀% ပြည်ပတင်ပို့) | စဉ် / ပစ္စည်း အမျိုးအစား / ထုတ်လုပ်မှု အရေအတွက် (တန်) / ရောင်းဈေးနှုန်း (US$/ တန်)<br>သစ်မာ<br>၁။ Conversion ၃,၇၃၃ ၁,၉၁၅<br>၂။ Scantling ၃,၇၃၃ ၁,၅၃၀<br>ကျွန်း<br>၃။ Conversion ၂,၀၆၇ ၄,၅၉၄<br>၄။ T & G (Flooring) ၁,၇၂၄ ၂,၈၀၈ |
| ၈။ | ရောင်းချမည့် နည်းစနစ် | - ၁၀% ပြည်တွင်းရောင်း၊ ၉၀% ပြည်ပတင်ပို့ |
| ၉။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (၆)နှစ်မြောက် | |
| | ဝင်ငွေ | - ကျပ် ၂၈,၅၀၂.၈၀၇ သန်း |
| | အသုံးစရိတ် | - ကျပ် ၂၆,၀၁၂.၄၇၇ သန်း |
| | အသားတင်အမြတ် | - ကျပ် ၂,၄၉၀.၃၃၀ သန်း |
| ၁၀။ | ဝန်ထမ်းအင်အား | - ၂၁၉ ဦး (ပြည်တွင်း) (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၉၅,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၂၅၀,၀၀၀ဖြစ်ပါသည်။)<br>- ၂ ဦး (ပြည်ပ) (ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၅၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ၆၀၀ ဖြစ်ပါသည်။) |
| ၁၁။ | အရင်းကြေကာလ | - ၅ နှစ် နှင့် ၃ လ |
| ၁၂။ | အရင်းအနှီးပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၂၄% |
| ၁၃။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (၆)နှစ်မြောက် | |
| | ဝင်ငွေခွန် | - ကျပ် ၈၃၀.၁၀၀ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၆၅.၀၉၀ သန်း |
| ၁၄။ | CSR | - အသားတင်အမြတ်ငွေ၏ ၂% |
| ၁၅။ | မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု အစီအစဉ် | - ရေလှောင် ကန်ထားရှိခြင်း၊ မီးသတ်ဘူး၊ ရေပုံး၊ မီးကပ်၊ မီးချိတ်၊ သဲအိတ်များထားရှိခြင်း၊ ဝန်ထမ်းများအား မီးဘေးအန္တရာယ် ကာကွယ်ရန် စည်းကမ်းချက်များ ထားရှိ၍ တိကျစွာလိုက်နာဆောင်ရွက်စေခြင်း၊ အရေးပေါ်မီးသတ် နည်းပညာများ လေ့ကျင့်သင်ကြားပေးခြင်း၊ ဆေးလိပ်သောက်ခြင်းအား တားမြစ်ထားခြင်း၊ မီးလုန့်အချက်ပေးစနစ်ထားရှိခြင်း၊ မီးဘေးလုံခြုံရေး ဝန်ထမ်းထားရှိခြင်းတို့ကို ဆောင်ရွက်မည် ဖြစ်ပါသည်။ |

| | | |
|---|---|---|
| ၁၆။ | အခြားတင်ပြချက် | - မြန်မာနိုင်ငံ၊ ကမ္ဘောဇဘဏ်လီမိတက် (လှိုင်သာယာဘဏ်ခွဲ)တွင် ဆောင်းနှင်းချယ်ရီကုမ္ပဏီလီမိတက်အမည်ဖြင့် ၁၇-၃-၂၀၁၅ နေ့ရှိ ငွေစာရင်းလက်ကျန် ကျပ် ၂၁၈,၂၆၀,၀၀၀ ရှိကြောင်း အထောက်အထား တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံ၊ နိုင်ငံခြားကုန်သွယ်မှုဘဏ်တွင် ဆောင်းနှင်းချယ်ရီ ကုမ္ပဏီလီမိတက် အမည်ဖြင့် ၁-၃-၂၀၁၅ နေ့ရှိ ငွေစာရင်း လက်ကျန် အမေရိကန်ဒေါ်လာ ၁၁၈,၁၀၀.၀၀ ရှိကြောင်း အထောက်အထား တင်ပြထားပါသည်။<br>- ကုမ္ပဏီ၏ ဒါရိုက်တာဖြစ်သူမြေပိုင်ရှင် ဦးအောင်သန်း အမည်ပေါက် မြေဂရန်နှင့် တည်နေရာပြမြေပုံကို ဖော်ပြထားရှိပါသည်။<br>- တည်ဆောက်မည့် စက်ရုံ၏ Layout Plan များကို ပြုစုတင်ပြထားပါသည်။<br>- ဆောင်းနှင်းချယ်ရီ ကုမ္ပဏီ လီမိတက်၏ ကုမ္ပဏီမှတ်ပုံတင် လက်မှတ်၊ ပုံစံ - ၆၊ ၂၆၊ MOA, AOA (မိတ္တူ) များအား တင်ပြထားပါသည်။<br>- ရင်းနှီးမြှုပ်နှံသူ နှင့် ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင် မိတ္တူများကို တင်ပြထား ပါသည်။<br>- လုပ်ငန်းခွင်သာယာရေး၊ ဝန်ထမ်းသက်သာချောင်ချိရေး၊ မီးဘေး လုံခြုံရေးစီမံချက်၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့် သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ်၊ လုပ်ငန်းသဘော သဘာဝ၊ လစာခွန်ပေးဆောင်မည်ဖြစ်ကြောင်းဝန်ခံကတိပြုလွှာ၊ သစ်ကုန်ကြမ်းရယူမည့်အစီအစဉ်များ၊ ကုမ္ပဏီပိုင်သစ်စိုက်ခင်း ထူထောင်ရေးစီမံချက်၊ IEE နှင့် EMP အစီအစဉ်များအား ဆက်လက်တင်ပြမည်ဖြစ်ကြောင်း ကတိဝန်ခံချက်များ တင်ပြထားပါသည်။ |
| ၁၇။ | စိစစ်တင်ပြချက် | - Exchange Rate အနေဖြင့် 1US$=1000ကျပ်ဖြင့် တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၂/ မ-၂၁၂ / ၂၀၁၅ ( ၄၄၇ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဇွန် လ ၁၀ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်းနှင်းချယ်ရီ ကုမ္ပဏီလီမိတက် (Saung Hnin Cherry Company Limited) မှ သစ်အခြေခံပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ

၁။ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုမြို့၊ အပိုင်း(၂)၊ ဆိပ်ကမ်းသာလမ်းနှင့် လှေသင်းအတွင်းဝန် ဦးချိန်လမ်းထောင့်၊ အမှတ် - ၂၄၇/ ဒီ ရှိ မြေအကျယ် ၁.၄၃၄ ဧက တွင် သစ်အခြေခံပစ္စည်းများထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအောင်နိုင်ဦး (အဘ-ဦးအောင်သန်း) မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ကုမ္ပဏီ၏ဒါရိုက်တာဖြစ်သူ မြေပိုင်ရှင်ဦးအောင်သန်း အမည်ပေါက် မြေဂရန်နှင့် တည်နေရာပြမြေပုံကို တင်ပြထားပါသည်။ မြေအကျယ်အဝန်းမှာ ၁.၄၃၄ ဧက (၅၈၀၃.၁၈၂ စတုရန်း မီတာ) ဖြစ်ပါသည်။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၃၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ၆လ ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ ကျပ် ၃,၃၄၂.၀၀ သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော အမေရိကန်ဒေါ်လာ ၀.၀၉သန်း တန်ဖိုးရှိသော စက်ပစ္စည်းများကို ပြည်ပမှ ဝယ်ယူ တင်သွင်းမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ ရင်းနှီးမြှုပ်နှံမှုအား အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| | | ကျပ် (သန်း) |
|---|---|---|
| (က) | ငွေပမာဏ | ၂၀၀.၀၀ |
| (ခ) | စက်ပစ္စည်းကိရိယာများ | ၁၂၆.၀၀ |
| (ဂ) | အဆောက်အအုံ | ၃,၀၀၀.၀၀ |
| (ဃ) | ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ | ၁၆.၀၀ |
| | **စုစုပေါင်း** | ၃,၃၄၂.၀၀ |

၄။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ ၂၁၉ ဦးနှင့် ပြည်ပမှ ကျွမ်းကျင်ဝန်ထမ်းဦးရေ ၂ ဦး စုစုပေါင်း ၂၂၁ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း၏ အနိမ့်ဆုံးလစာမှာ ကျပ် ၉၅,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၂၅၀,၀၀၀ ဖြစ်ကြောင်းနှင့် ပြည်ပဝန်ထမ်း တစ်ဦး၏အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၅၀၀ဖြစ်ပြီး အမြင့်ဆုံး လစာမှာ အမေရိကန်ဒေါ်လာ ၆၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထုတ်ကုန်များကို ပြည်တွင်း၌ ၁၀ % ရောင်းချမည်ဖြစ်ပြီး ပြည်ပသို့ ၉၀% တင်ပို့မည်ဖြစ်ပါသည်။ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | ပစ္စည်းအမျိုးအစား ပြည်တွင်းရောင်း ၁၀ % | ထုတ်လုပ်မှု အရေအတွက် (တန်) | ရောင်းဈေးနှုန်း (US$/ တန်) |
|---|---|---|---|
| | **သစ်မာ** | | |
| (က) | Conversion | ၄၁၅ | ၁,၀၂၃,၁၂၈ |
| (ခ) | Scantling | ၄၁၅ | ၇၆၅,၇၆၉ |
| | **ကျွန်း** | | |
| (ဂ) | Conversion | ၂၃၀ | ၁,၄၀၃,၉၁၀ |
| (ဃ) | T & G (Flooring) | ၁၉၁ | ၁,၀၂၁,၀၂၅ |
| **စဉ်** | **ပစ္စည်းအမျိုးအစား ပြည်တွင်းရောင်း ၉၀ %** | **ထုတ်လုပ်မှု အရေအတွက် (တန်)** | **ရောင်းဈေးနှုန်း (US$/ တန်)** |
| | **သစ်မာ** | | |
| (က) | Conversion | ၃,၇၃၃ | ၁,၉၁၅ |
| (ခ) | Scantling | ၃,၇၃၃ | ၁,၅၃၁ |
| | **ကျွန်း** | | |
| (ဂ) | Conversion | ၂,၀၆၇ | ၄,၅၉၄ |
| (ဃ) | T & G (Flooring) | ၁,၇၂၄ | ၂,၈၀၈ |

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် (ဆဋ္ဌမမြောက်နှစ်) တွင် ရရှိမည့် ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | |
|---|---|---|
| (က) | ဝင်ငွေ | - ကျပ် ၂၈,၅၀၂.၈၀၇ သန်း |
| (ခ) | အသုံး စရိတ် | - ကျပ် ၂၆,၀၁၂.၄၇၇ သန်း |
| (ဂ) | အသားတင်အမြတ် | - ကျပ် ၂,၄၉၀.၃၃၀ သန်း |

၇။ နိုင်ငံတော်မှ (ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(က) ဝင်ငွေခွန် ကျပ် ၈၃၀.၁၀၀ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၆၅.၀၉၀ သန်း

၈။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၅) နှစ် နှင့် (၃) လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၂၄ ရာခိုင်နှုန်း ဖြစ်ပါသည်။

၉။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ လက်ရှိ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်မှု မရှိကြောင်း၊ မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် စီးပွားရေးဖွံ့ဖြိုးမှုအတွက် အထောက်အကူဖြစ်ပါကြောင်း၊ ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရလက်ခံနိုင်ခြင်းရှိကြောင်း၊ လုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ သစ်ကုန်ကြမ်း ရရှိနိုင်ရေးအတွက် မြန်မာ့သစ်လုပ်ငန်းမှ ကျင်းပပြုလုပ်မည့် ပြည်တွင်း/ ပြည်ပ အိတ်ဖွင့်တင်ဒါများတွင် ဝင်ရောက်ယှဉ်ပြိုင်ဝယ်ယူနိုင်ကြောင်း၊ ရေရှည်ကုန်ကြမ်း ရရှိနိုင်ရေးအတွက် သစ်တောဦးစီးဌာနသို့ ပုဂ္ဂလိက သစ်တော စိုက်ခင်းများ စိုက်ပျိုးတည်ထောင်ခွင့် လျှောက်ထားဆောင်ရွက်နိုင်ကြောင်း၊ လုပ်ငန်းဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက်လုပ်ငန်းတစ်ခုချင်းစီအလိုက် လုပ်ငန်းဆိုင်ရာ အချက်အလက် များကို ပြည့်စုံစွာဖော်ပြပြီး ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်း စနစ်အသုံးပြုရန်၊ အဆိုပြုလွှာတွင်ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) အတွက် အမြတ်ငွေ၏ ၂% အား အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊ အဆိုပြု လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင်

ဆန်းစစ်ခြင်း (IEE) ဆောင်ရွက်ပြီးအစီရင်ခံစာတင်ပြရန်၊ ဆောင်ရွက်ရရှိသည့် အစီရင်ခံစာအရ စွန့်ပစ်ပစ္စည်းများအား စနစ်တကျစွန့်ပစ်မည့် အစီအစဉ်များ ပါဝင်သည့် စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုအစီအစဉ်များ၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးသည့်စနစ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (EMP) ကို ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည် ဖော်ဆောင်ရွက်ရန် သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့် အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

၁၀။ ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ ကမ္ဘောဇဘဏ်လီမိတက် (လှိုင်သာယာဘဏ်ခွဲ)တွင် ဆောင်းနှင်းချယ်ရီကုမ္ပဏီလီမိတက်အမည်ဖြင့် ၁၇-၃-၂၀၁၅ နေ့ရှိ ငွေစာရင်းလက်ကျန် ကျပ် ၂၁၈,၂၆၀,၀၀၀ ရှိကြောင်းနှင့် မြန်မာနိုင်ငံ နိုင်ငံခြားကုန်သွယ်မှုဘဏ်တွင် ဆောင်းနှင်းချယ်ရီ ကုမ္ပဏီလီမိတက် အမည်ဖြင့် ၁-၃-၂၀၁၅ နေ့ရှိ ငွေစာရင်း လက်ကျန် အမေရိကန်ဒေါ်လာ ၁၁၈,၁၀၀.၀၀ ရှိကြောင်း ငွေကြေးအထောက်အထားများ တင်ပြထားပါသည်။

၁၁။ ကုမ္ပဏီသည် လုပ်ငန်းခွင်သာယာရေး၊ ဝန်ထမ်းသက်သာချောင်ချိရေး၊ မီးဘေး လုံခြုံရေး စီမံချက်၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့် သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ်၊ လုပ်ငန်းသဘောသဘာဝ၊ လစာခွန်ပေးဆောင်မည်ဖြစ်ကြောင်းဝန်ခံကတိပြုလွှာ၊ သစ်ကုန်ကြမ်း ရယူမည့်အစီအစဉ်များ၊ ကုမ္ပဏီပိုင်သစ်စိုက်ခင်း ထူထောင်ရေးစီမံချက်၊ IEE နှင့် EMP အစီအစဉ်များ ဆက်လက်တင်ပြမည်ဖြစ်ကြောင်း ကတိဝန်ခံချက်များအား တင်ပြထားပါသည်။

၁၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ည၊ ဋ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

၁၃။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် ဧပြီလ ၂၇ ရက်နေ့ တွင် ကျင်းပပြုလုပ်သည့် ၁၅/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

(က) ကုမ္ပဏီမှ ဧရာဝတီတိုင်းဒေသကြီးတွင် စက်မှုကုန်ကြမ်းအဖြစ် သစ်တော စိုက်ခင်းထူထောင်ရေးနှင့် ပတ်သက်သည့် လုပ်ငန်းစီမံချက်တင်ပြထားပါသည်။ သစ်စိုက်ခင်းထူထောင်ရန်အတွက် ဧရာဝတီတိုင်းဒေသကြီးတွင် ဧက (၅၀၀) မြေနေရာချထားပေးရန် သစ်တောဦးစီးဌာနသို့ လျှောက်ထားသည့် စာများ တင်ပြထားပါသည်။

( ခ ) တည်ဆောက်မည့် စက်ရုံ၏ Layout Plan များကို ပြုစုတင်ပြ ထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

ဆောင်းနှင်းချယ်ရီ ကုမ္ပဏီလီမိတက် (Saung Hnin Cherry Company Limited) မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုမြို့၊ အပိုင်း(၂)၊ ဆိပ်ကမ်းသာလမ်းနှင့် လှေသင်းအတွင်းဝန် ဦးချိန်လမ်းထောင့်၊ အမှတ် - ၂၄၇/ ဒီ ရှိ မြေအကျယ် ၁.၄၃၄ ဧက တွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် သစ်အခြေခံပစ္စည်းများထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းအပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ။

ရုံးလက်ခံ/မျှောစာတွဲ

Saung Hnin Cherry Company ၏ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ရာထူး | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁ | ဦးအောင်နိုင်ဦး<br>၁၂/ မနတ (နိုင်) ၀၇၈၉၁၂ | မန်နေဂျင်းဒါရိုက်တာ | အမှတ်-၆၆ ၊ မင်းသိင်္ခကျော်စွာလမ်း၊ စက်မှုဇုံ ၃၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၂ | ဦးအောင်သန်း<br>၁၂/ မနတ (နိုင်)၀၈၃၅၆၆ | ဒါရိုက်တာ | အမှတ်-၂၄၇/ဒီ၊ ဆိပ်ကမ်းသာလမ်းနှင့် ဦးချိန်လမ်းထောင့်၊ စက်မှုဇုန်(၂)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃ | ဒေါ်အိရွှေစင်<br>၉/ အမစ (နိုင်) ၀၃၆၈၂၁ | ဒါရိုက်တာ | အမှတ်-၂၁၆၊ ၂၂လမ်း၊ သိရိမာလာအနောက်ရပ်ကွက်၊ အောင်မြေသာဇံရပ်ကွက်၊ မန္တလေးတိုင်းဒေသကြီး |

| | | |
|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | ၀၉-၅၀၄၆၆၀၉ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | အမှတ်-၆၆ ၊ မင်းသိင်္ခကျော်စွာလမ်း၊ စက်မှုဇုံ ၃၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | ဦးအောင်နိုင်ဦး |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့် လုပ်ငန်းများ | သစ်အခြေခံပစ္စည်းထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | ၂၂၉၈/၂၀၁၃-၂၀၁၄ (၁၂-၈-၂၀၁၃) |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | ၁၂-၈-၂၀၁၃ မှ ၁၁-၈-၂၀၁၈ |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | |




IC, 2

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

**နောက်ဆက်တွဲ-က**

စာအမှတ်၊ ၃/ ၆ - ၃ (၄၃) / စီမံစီးပွား
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ မေ လ ၁၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၄. ၅. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂/ န-၂၀၂ / ၂၀၁၅ (၃၀၃)

၁။ ဆောင်းနှင်းချယ်ရီ ကုမ္ပဏီလီမိတက် (Saung Hnin Cherry Company Limited)သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုမြို့ အပိုင်း(၂)၊ ဆိပ်ကမ်းသာလမ်းနှင့် လှေသင်းအတွင်းဝန် ဦးချိန်လမ်းထောင့်၊ အမှတ်-(၂၄၇/ဒီ)ရှိ မြေအကျယ် ၁. ၄၃၄ ဧက (၅,၈၀၃. ၁၉၂ စတုရန်းမီတာ)တွင် သစ်ပါးလွှာ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံ လာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၂၁၉)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုမြို့ အပိုင်း(၂)၊ ဆိပ်ကမ်းသာလမ်းနှင့် လှေသင်းအတွင်းဝန် ဦးချိန်လမ်းထောင့်၊ အမှတ်- (၂၄၇/ဒီ)ရှိ ဆောင်းနှင်းချယ်ရီ ကုမ္ပဏီလီမိတက်ပိုင်ရှင် ဦးအောင်နိုင်ဦးပိုင် မြေအကျယ် ၁. ၄၃၄ ဧက (၅,၈၀၃. ၁၉၂ စတုရန်းမီတာ)ပေါ်တွင် လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

D/2015/Cabinet/26..15

**ကန့်သတ်**



၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၂၆. ၅. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၆/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၅၁)အရ ဆောင်းနှင်းချယ်ရီ ကုမ္ပဏီလီမိတက် ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

မိတ္တူကို

ရန်ကုန်တိုင်းဒေသကြီးစီမံကိန်းနှင့်စီးပွားရေးဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဆောင်းနှင်းချယ်ရီ ကုမ္ပဏီလီမိတက်
လက်ခံစာတွဲ
မျှောစာတွဲ

D/2015/Cabinet/26_16







နောက်ဆက်တွဲ- ခ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ပြည်ထောင်စုဝန်ကြီးရုံး

TIC, 55 / 1915

ပြန်ပို - 2842 / 18-5-15

စာအမှတ် ၂/၂၀(ခ)(ဖ)/( ၄၁၄ /၂၀၁၅)

ရက်စွဲ ၂၀၁၅ ခုနှစ်၊ မေလ ၁၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၄ - ၅ - ၂၀၁၅ ရက်စွဲပါစာအမှတ် ရက - ၂ / မ - ၂၁၂ / ၂၀၁၅ ( ၃၀၅ )

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ဆောင်းနှင်းချယ်ရီ ကုမ္ပဏီလီမိတက် ( Saung Hnin Cherry Co., Ltd. ) သို့ ရန်ကုန်တိုင်းဒေသကြီး ၊ လှိုင်သာယာမြို့နယ် ၊ စက်မှုမြို့ ၊ အပိုင်း(၂)၊ဆိပ်ကမ်းသာလမ်းနှင့် လှေသင်းအတွင်းဝန် ဦးချိန်လမ်းထောင့် ၊ အမှတ် - (၂၄၇ / ဒီ) ရှိ မြေအကျယ် (၁.၄၃၄) ဧက (၅,၈၀၃.၁၉၂ စတုရန်းမီတာ) တွင် သစ်ပါးလွှာထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာသဘောထားမှတ်ချက် ကို ပြန်ကြားအပ်ပါသည်။

၂။ ပေးပို့လာသော အဆိုပြုလွှာအား စိစစ်ရာ အထပ်သားကဲ့သို့ တန်ဖိုးမြင့်သစ်အခြေခံ ကုန်ပစ္စည်း ထုတ်လုပ်ခြင်းလုပ်ငန်းတွင် ဓါတုဗေဒ ပစ္စည်းများအား သုံးစွဲရန် လိုအပ်မည်ဖြစ်ပါ သဖြင့် အဆိုပါကုန်ကြမ်းပစ္စည်းများ သိုလှောင်ခြင်း ၊ သုံးစွဲခြင်း ၊ လုပ်ငန်းအဆင့်ဆင့်မှ စွန့်ပစ် ပစ္စည်း နှင့် စွန့်ပစ်အရည်များ ၊ သစ်အမှုန်အမွှားများ ၊ အနံ့အသက်များကြောင့် ပတ်ဝန်းကျင်ရှိ ရေ ၊ လေ ၊ မြေညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ခြင်း ၊ စက်ရုံလည်ပတ်ခြင်းမှ ထွက်ရှိလာသည့် ဆူညံသံများကြောင့် အသံညစ်ညမ်းမှု နှင့် စက်ရုံ ဧရိယာအနီး ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေး ထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများ ဖြစ်ပေါ်လာနိုင် ပါသည်။

၃။ ကုမ္ပဏီမှ သစ်အချောစက် တည်ထောင်ခြင်းသည် သစ်တောဥပဒေ၊လုပ်ထုံးလုပ်နည်းများ နှင့် အညီ စိစစ်ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပြီး သစ်ကုန်ကြမ်း ရရှိနိုင်ရေးအတွက် မြန်မာ့သစ် လုပ်ငန်းမှ ကျင်းပပြုလုပ်မည့် ပြည်တွင်း / ပြည်ပ အိတ်ဖွင့်တင်ဒါများတွင် ဝင်ရောက်ယှဉ်ပြိုင် ဝယ်ယူနိုင်ပါကြောင်း နှင့် ရေရှည်ကုန်ကြမ်း ရရှိနိုင်ရေးအတွက် သစ်တောဦးစီးဌာနသို့ ပုဂ္ဂလိက သစ်တောစိုက်ခင်းများ စိုက်ပျိုးတည်ထောင်ခွင့် လျှောက်ထားဆောင်ရွက်နိုင်ပါကြောင်း ဖော်ပြ အပ်ပါသည်။

၄။ သို့ဖြစ်၍ ဆောင်းနှင်းချယ်ရီကုမ္ပဏီလီမိတက် ( Saung Hnin Cherry Co., Ltd. ) မှ ရန်ကုန်တိုင်းဒေသကြီး ၊ လှိုင်သာယာမြို့နယ် ၊ စက်မှုမြို့ ၊ အပိုင်း(၂) ၊ ဆိပ်ကမ်းသာလမ်းနှင့် လှော်သင်းအတွင်းဝန် ဦးချိန်လမ်းထောင့်၊ အမှတ်- ( ၂၄၇ / ဒီ ) ရှိ မြေအကျယ် ( ၁.၄၃၄ ) ဧက ( ၅,၈၀၃.၁၉၂ စတုရန်းမီတာ ) တွင် သစ်ပါးလွှာထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ အောက်ပါ အတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်မှုများရှောင်ရှားနိုင်ရန် စီမံကိန်းဆိုင်ရာ အချက် အလက်များအား ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ် အသုံးပြုခြင်း ၊ အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာတာဝန်ခံမှု (CSR) အား အမြတ်ငွေ၏ ၂% ကို အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လုပ်ငန်းစီမံချက်ပါအတိုင်း လိုက်နာဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု နှင့် လူမှုရေး ထိခိုက်မှု မရှိစေရေး ( သို့မဟုတ် ) အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း ( Initial Environmental Examination ) ဆောင်ရွက်ပြီး IEE အစီရင်ခံစာ တင်ပြရန်၊

(ဃ) လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းပညာ များ ၊ လုပ်ငန်းအစီအစဉ် ၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည့်တို့ ပါဝင်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးစီမံချက်( Environmental Management Plan-EMP ) ရေးဆွဲ တင်ပြရန် နှင့် အစီရင်ခံစာအရ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ နှင့် အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန် ၊

ကန့်သတ်
၁၆

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံ ပြည်သူများ၏ ဆန္ဒ နှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
/ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

၅၄၄၉ ၃၉/၅

စာအမှတ်၊ ၂၁-စမ (၂)၂၀၁၅-၂၀၁၆(၃၂၅)
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ မေလ ၂၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၄.၅.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/ မ-၂၁၂/ ၂၀၁၅ (၁၀၄)

၁။ ဆောင်းနှင်းချယ်ရီ ကုမ္ပဏီလီမိတက်သည် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုမြို့၊ အပိုင်း(၂)၊ ဆိပ်ကမ်းသာလမ်းနှင့် လှေသင်းအတွင်းဝန် ဦးချိန်လမ်းထောင့်၊ အမှတ်(၂၄၇/ဒီ)တွင် သစ်ပါးလွှာထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး သစ်ပါးလွှာထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ ဆောင်းနှင်းချယ်ရီ ကုမ္ပဏီလီမိတက်မှ သစ်ပါးလွှာထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ပြည့်ဆည်းဆောင်ရွက်ပြီး

**ကန့်သတ်**

**၁၈**

နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

---

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သွင်မြင့်မောင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန